ကုမ္ပဏီအမည် - **AA QSR Co., Ltd.**

လုပ်ငန်း - **ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း**

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြည်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | ကုမ္ပဏီမှအဆိုပြုလွှာတင်ပြလာခြင်း | ၁၃-၁၂-၂၀၁၇ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ၄/၂၀၁၇ သို့ တင်ပြခြင်း | ၁၉-၁၂-၂၀၁၇ | | |
| ၃ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရောဝတီတိုင်းဒေသကြီး အစိုးရအဖွဲ့ | ၁၃-၁၂-၂၀၁၇ | | |
| | (ခ)ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန | ၁၃-၁၂-၂၀၁၇ | | |
| | ကုမ္ပဏီသို့ဌာနဆိုင်ရာသဘောထားမှတ်ချက်များအရပြင်ဆင်တင်ပြရန် အကြောင်းကြားခြင်း | ၂၆-၁၂-၂၀၁၇ | | |
| | ကုမ္ပဏီမှလိုအပ်ချက်များပြင်ဆင်တင်ပြလာခြင်း | ၂-၁-၂၀၁၈ | | ကော်မတီပြင်ဆင်ဖွဲ့စည်းခြင်း |
| ၄ | ကော်မတီအစည်းအဝေးသို့တင်ပြခြင်း (၁/၂၀၁၈) ARIC | ၁၆-၃-၂၀၁၈ | | |
| | **စုစုပေါင်းကြာမြင့်ရက် ၉၃ ရက်** | | | |

**AA QSR Co., Ltd. မှ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ တင်ပြရန်လိုအပ်သည့်အချက်အလက်များ**

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်း အမျိုးအစား | PAT အကြိမ် နေ့စွဲ | ဆွေးနွေးချက်မှ တင်ပြရန်လိုအပ်ချက် | ဆောင် ရွက် ပြီးစီးမှု | မှတ် ချက် |
|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| ၁။ | AA QSR Co., Ltd. | ဟိုတယ်ဝန် ဆောင်မှု လုပ်ငန်း | ၄/၂၀၁၇ (၁၉-၁၂-၂၀၁၇) | (က) သဘာဝပတ်ဝန်း ကျင်စီမံခန့်ခွဲမှုအစီ အစဉ် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်။<br>(ခ) ရေဆိုးစွန့်ထုတ်မည့် အစီအစဉ်ရေးဆွဲ တင်ပြရန်။<br>(ဂ) electricity demand တင်ပြ ပေးရန်။<br>(ဃ) ရောဝတီတိုင်းဒေသ ကြီးတွင် အခွန်ပေး သွင်းရန်။<br>(င) အလုပ်သမားများအား အလုပ်သမားမှတ်ပုံ တင်ပြုလုပ်ပြီးခန့်ထား ရန်၊ ခန့်ထားပြီးပါက အလုပ်ရှင်နှင့် အလုပ် သမား သဘောတူ စာချုပ်များချုပ်ဆိုရန်၊ လုပ်ခလစာနှင့်စပ် လျဉ်း၍ အနည်းဆုံး လုပ်ခလစာဥပဒေနှင့် အညီပေးချေရန်နှင့် အလုပ်သမားများ အတွက် လူမှုဖူလုံရေး ထားရှိရန်။ | လိုက်နာ ဆောင် ရွက်မည် ဖြစ် ကြောင်း တင်ပြ ထားပါ သည်။ | |

အကြောင်းအရာ။ AA QSR Co., Ltd. မှ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အတည်ပြုလျှောက်ထားလွှာတင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန်<br>လုပ်ငန်းအမျိုးအစား | -AA QSR Co., Ltd.<br>- ဦးသန်းဝင်းအောင်<br>- ရာခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု<br>- ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း |
| ၂။ | တည်နေရာ | - ရောဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ပုသိမ်မြို့နယ်၊ ငွေဆောင်မြို့နယ်ခွဲ၊ အမှတ်(၃)ရပ်ကွက်၊ ကွင်းအမှတ် ၁၉၈၆၊ ငဆောက်ကွင်း၊ ဦးပိုင်အမှတ် N-၆၂ ရှိမြေ ၃.၅၄ဧက |
| ၃။ | မြေပိုင်ရှင်<br>အကျယ်အဝန်း<br>မြေ/အဆောက်အအုံငှားရမ်းခ<br>မြေ/အဆောက်အအုံငှားရမ်း/အသုံးပြုခွင့်သက်တမ်း | - ဦးသန်းဝင်းအောင်<br>- မြေဧရိယာ ၃.၅၄ ဧက<br>- -<br>- - |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း | - ကနဦးနှစ် ၃၀ (သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်) |
| ၅။ | တည်ဆောက်မှုကာလ/ပြင်ဆင်မှုကာလ | - ၁ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်းပမာဏ ထည့်ဝင်သည့်အမျိုးအစား | |

| ၆။ | US$ | ကျပ်(သန်း) | ရာခိုင်နှုန်း |
|---|---|---|---|
| (က)ပြည်တွင်းမှထည့်ဝင်သည့်မတည်ငွေရင်းပမာဏ/ရာခိုင်နှုန်း | - | ၅၀၀၀.၀၀ | ၁၀၀% |
| (ခ)နိုင်ငံခြားမှယူဆောင်လာမည့်မတည်ငွေရင်းပမာဏ/ရာခိုင်နှုန်း | - | - | - |
| **စုစုပေါင်း** | - | ၅၀၀၀.၀၀ | - |

| | | |
|---|---|---|
| ၇။ | အခြားတင်ပြချက် | (က) လုပ်ငန်းဆောင်ရွက်မည့်မြေနေရာ နှင့်စပ်လျဉ်း၍ လယ်ယာမြေအခြားနည်းအသုံးပြုခွင့်ပုံစံ(၁၅-က)၊ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်နှင့် သင်းဖွဲ့စည်းမျဉ်း သင်းဖွဲ့မှတ်တမ်းတို့ကို ပူးတွဲတင်ပြထားပါသည်။<br>(ခ) ဝန်ထမ်းခန့်ထားမည့် အစီအစဉ်နှင့် လုပ်ခလစာကို အောက်ပါအတိုင်းတင်ပြထားပါသည်-<br>**စုစုပေါင်း ၁၅၉ ဦး**<br>ပြည်တွင်း- ၁၅၉ ဦး(တစ်လလျှင် ပြည်တွင်းဝန်ထမ်း |

| | | |
|---|---|---|
| | | တစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၃၀,၀၀၀ ၊အမြင့်ဆုံး လစာမှာ ကျပ်၈၀၀,၀၀၀ဖြစ်ပါသည်။)<br>ပြည်ပ - ခန့်ထားခြင်းမရှိပါ။ |
| ၈။ | **စိစစ်တင်ပြချက်** | (က) ဟိုတယ်နှင့် အပန်းဖြေစခန်းများ တည်ဆောက် ၍ ဝန်ဆောင်မှုပေးခြင်းလုပ်ငန်းများ (Providing services by construction of hotels and resorts) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာ စာ ၁၃/၂၀၁၇ အရ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍ စာရင်းတွင် ပါဝင်ပါ သည်။<br>(ခ) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် ပုသိမ်ခရိုင်၊ ငွေဆောင်မြို့နယ်သည် ဖွံ့ဖြိုးမှုအသင့်အတင့်ရှိသည့် ဒေသဇုန် (၁) တွင် ပါဝင်ပါသည်။<br>(ဂ) CSR အတွက် အသားတင်အမြတ်၏ ၂ % ကို အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>(ဃ) လုပ်ငန်းဆောင်ရွက်မည့် မြေ ၃.၅၄ ဧကသည် လယ်ယာ မြေ အခြားနည်းအသုံးပြုခွင့် ပုံစံ(၁၅-က) ရရှိပြီး ဖြစ်ပါ သည်။<br>(င) ကုမ္ပဏီအနေဖြင့် မြေအသုံးပြုခွင့် လျှောက်ထားလွှာ နှင့် အခွန်ကင်းလွတ်ခွင့်သက်သာခွင့်လျှောက်ထားလွှာကို ပူးတွဲ တင်ပြထားပါသည်။<br>(စ) ပြည်ပမှအမေရိကန်ဒေါ်လာ ၁၇၇၄၁၁ တန်ဖိုးရှိ လုပ်ငန်းသုံး ပစ္စည်းများကို တင်သွင်းမည် ဖြစ်ကြောင်း တင်ပြထား ပါသည်။ |




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ**

စာအမှတ်၊ ဧရက/အ-၀၁၀/ဟိုတယ်/၂၀၁၈(၀၃၇)
ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ဖေဖော်ဝါရီ လ ၉ ရက်

**ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီသို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **AA QSR Co., Ltd. မှ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအားမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အတည်ပြုလျှောက်ထားလွှာတင်ပြလာခြင်းကိစ္စ**

၁။ AA QSR Co., Ltd. မှ ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ပုသိမ်မြို့နယ်၊ ငွေဆောင် မြို့နယ်ခွဲ၊ အမှတ်(၃)ရပ်ကွက်၊ ကွင်းအမှတ် ၁၉၈ဖ၊ ငဆော်ကွင်း၊ ဦးပိုင်အမှတ် N-၆၂ ရှိ မြေ ၃.၅၄ ဧကတွင် ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဧရာဝတီတိုင်းဒေသကြီး ရင်းနှီး မြှုပ်နှံမှုကော်မတီသို့ တင်ပြလာပါသည်။

၂။ လုပ်ငန်းဆောင်ရွက်မည့်မြေ ၃.၅၄ ဧက နှင့်စပ်လျဉ်း၍ လယ်ယာမြေ အခြားနည်း အသုံး ပြုခွင့် လယ-၃၀(ခ)၊ ကုမ္ပဏီမှတ်ပုံတင်လက်မှတ် နှင့် သင်းဖွဲ့စည်းမျဉ်း သင်းဖွဲ့မှတ်တမ်း တို့ကို ပူးတွဲ တင်ပြထားပါသည်။

၃။ လုပ်ငန်းသက်တမ်း ကာလမှာ ကနဦး နှစ် ၃၀ ဖြစ်ပြီး သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် ဆောင်ရွက်မည်ဖြစ်ပါသည်။ တည်ဆောက်ရေးကာလမှာ ၁ နှစ်ဖြစ်ကြောင်း တင်ပြထားပါသည်။

၄။ လုပ်ငန်း၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုမှာ ကျပ်သန်း ၅၀၀၀ ဖြစ်၍ အောက်ပါအတိုင်း ထည့် ဝင် မည်ဖြစ်ပါသည်-

| **ရင်းနှီးမြှုပ်နှံမှုပမာဏ** | **ကျပ်(သန်းပေါင်း)** |
|---|---|
| ပြည်တွင်းမှထည့်ဝင်သည့်မတည်ငွေရင်းပမာဏ | ၅၀၀၀.၀၀ |
| နိုင်ငံခြားမှယူဆောင်လာမည့်မတည်ငွေရင်းပမာဏ | - |
| **စုစုပေါင်း** | **၅၀၀၀.၀၀** |

၅။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း ဦးရေ(၁၅၉)ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်း ဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာကျပ် ၁၃၀,၀၀၀ ဖြစ်ပြီးအမြင့်ဆုံးလစာမှာ ကျပ် ၈၀၀,၀၀၀ နှင့် ပြည်ပဝန်ထမ်းခန့်အပ်ထားခြင်းမရှိကြောင်း တင်ပြထားပါသည်။

၆။ ကုမ္ပဏီမှ အောက်ပါအတိုင်း ဝန်ဆောင်မှုပေးမည် ဖြစ်ပါသည်-

| Type of Room | Quantity | Occupancy Room | Room Rate (MMK) |
|---|---|---|---|
| Standard Room | ၃၂ | ၁၆ | ၄၅၀၀၀ |
| Deluxe Room | ၃၂ | ၁၆ | ၈၀၀၀၀ |

၇။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ တစ်ဖက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **ရောဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့** မှ သဘောထားမှတ်ချက်ပြန်ကြားလာခြင်း မရှိသေးပါ။

(ခ) **ရောဝတီတိုင်းဒေသကြီးပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာနမှ** ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအနေဖြင့် သဘာဝပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ကို ရေးဆွဲတင်ပြရမည်ဖြစ်ကြောင်း၊ ရေဆိုးနှင့်မိလ္လာစနစ်ကိုထည့်သွင်းဖော်ပြရန်နှင့် EMP ရေးဆွဲရမည့် Guide Line ကို လမ်းညွှန်ပေးမည်ဖြစ်ကြောင်း၊ CSR နှင့်ပတ်သက်၍ fund တစ်ခုထားရှိဆောင်ရွက်စေလိုကြောင်း မှတ်ချက်ပြုထားပါသည်။ **နောက်ဆက်တွဲ(က)**

၈။ ငွေကြေး အထောက်အထားအဖြစ် AYA Bank တွင် ၃၁-၁၀-၂၀၁၇ ရက်စွဲဖြင့် ကျပ် ၁၇၀၇၁၀၉၉၆၆.၄၄ ရှိကြောင်းတင်ပြထားပါသည်။

၉။ AA QSR Co., Ltd. မှ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး အစီအစဉ်၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာ ချောင်ချိရေးစီမံဆောင်ရွက်မည့် အစီအစဉ်နှင့် CSR အတွက် နှစ်စဉ်အသားတင်အမြတ်၏ ၂ % ကို အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၀။ **စိစစ်တင်ပြချက်**

(က) ဟိုတယ်နှင့် အပန်းဖြေစခန်းများ တည်ဆောက်၍ ဝန်ဆောင်မှုပေးခြင်းလုပ်ငန်းများ (Providing services by construction of hotels and resorts) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာ စာ ၁၃/၂၀၁၇ အရ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍ စာရင်းတွင် ပါဝင်ပါ သည်။

(ခ) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် ပုသိမ်ခရိုင်၊ ငွေဆောင်မြို့နယ်သည် ဖွံ့ဖြိုးမှုနည်းပါးသည့် ဒေသဇုန် (၁) တွင် ပါဝင်ပါသည်။

(ဂ) လုပ်ငန်းဆောင်ရွက်မည့် မြေ ၃.၅၄ ဧကသည် လယ်ယာမြေ အခြားနည်းအသုံးပြုခွင့် ပုံစံ(၁၅-က) ရရှိပြီး ဖြစ်ပါ သည်။

(ဃ) ကုမ္ပဏီအနေဖြင့် မြေအသုံးပြုခွင့် လျှောက်ထားလွှာ နှင့် အခွန်ကင်းလွတ်ခွင့်သက်သာခွင့်လျှောက်ထားလွှာကို ပူးတွဲ တင်ပြထားပါသည်။

(င) ပြည်ပမှအမေရိကန်ဒေါ်လာ ၁၇၇၄၁၁ တန်ဖိုးရှိလုပ်ငန်းသုံး ပစ္စည်းများကို တင်သွင်းမည် ဖြစ်ကြောင်း တင်ပြထား ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ AA QSR Co., Ltd. မှ ရောဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ပုသိမ်မြို့နယ်၊ ငွေဆောင်မြို့နယ်ခွဲ၊ အမှတ်(၃)ရပ်ကွက်၊ ကွင်းအမှတ် ၁၉၈၆၊ ငဆော်ကွင်း၊ ဦးပိုင်အမှတ် N-၆၂ ရှိ မြေ ၃.၅၄

ဧကတွင် ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ခွင့်)
(စိုးအောင်၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ